





# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ-၀၀၃/၉၅ ၁၉၉၅ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၄ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးငွေးမြင့်

(ခ) အဘအမည် ဦးစွမ်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/လမတ(နိုင်)၀၀၉၉၆၀

(ဃ) နေရပ်လိပ်စာ ၃၀၊ ဝါးတန်းလမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း ယူဇနဟိုတယ်လီမိတက်

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ဟိုတယ်လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) အလံပြဘုရားလမ်း၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့။

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) သန်း ၁၀၀ (ကျပ်သန်းတစ်ရာတိတိ)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

**အမိန့်ကြော်ငြာစာအမှတ်၊ ၂/၉၅**

**ရန်ကုန်မြို့၊ ၁၃၅၆ ခုနှစ်၊ တပို့တွဲလပြည့်ကျော် ၉ ရက်။**

**( ၁၉၉၅ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၃ ရက်) ။**

၁။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ- ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ယုဇနဟိုတယ်လီမိတက်အား ကာကွယ်ရေးဝန်ကြီးဌာန စစ်ထောက်ချုပ်ရုံးပိုင်၊ ရန်ကုန်မြို့ ၊ ဒဂုံမြို့နယ် အလံပြဘုရားလမ်းရှိ ကာကွယ်ရေးဝန်ကြီးရုံး မြေနှင့်အဆောက်အအုံကို ငှားရမ်း ပြုပြင် တိုးချဲ့ မွမ်းမံလျက် ယုဇနဟိုတယ်အမည်ဖြင့် ဟိုတယ်လုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ - ၀၀၃ / ၉၅ ကို ထုတ်ပေးလိုက်သည်။

၂။ ယုဇနဟိုတယ်လီမိတက်အနေဖြင့် ဤခွင့်ပြုမိန့်အရ ဟိုတယ်လုပ်ငန်းများကိုဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၇)၊ ပုဒ်မ - ၁၂ အရ၊ စီးပွားရေး လုပ်ငန်း စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့်၊ ဥပဒေပုဒ်မ - ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီအောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ - ၁၃(က) အရ၊ လုပ်ငန်း၏ ရင်းနှီး မြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့်ကို ခံစားခွင့်ပြုသည်။ အဆိုပါသက်သာခွင့်ကို သတ်မှတ်ပေးနိုင်ရန်အတွက် ကနဦးရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် ဤကော်မရှင်သို့ လျှောက်ထား ရမည်။

(ခ) ဥပဒေပုဒ်မ - ၁၃(ခ) အရ၊ လုပ်ငန်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန်သက်သာခွင့်ကို ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း၏ အမှန်တကယ် အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှုအခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထား ရမည်။

(ဂ) ဥပဒေပုဒ်မ - ၁၃(ဇ) အရ၊ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန်အကောက်များ နှစ်မျိုးလုံးကို ကင်းလွတ်ခွင့်ပြုသည်။

(ဃ) ဥပဒေပုဒ်မ - ၁၃(ဈ) အရ၊ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလ ကုန်ဆုံး၍ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းစတင်သည့် ပထမ (၃) နှစ်အတွက်ကော်မရှင်ကတင်သွင်းခွင့် ပြုသည့် စားသောက်ကုန်နှင့်အဖျော်ယမကာ စသည်များ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်နှင့် စပ်လျဉ်း၍ အခြား လိုင်စင်ရ ဟိုတယ်များနည်းတူ ခံစားခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ -၁၃ (ဇ)အရ၊ ပြည်ပမှတင်သွင်းသည့် စက်ပစ္စည်းများနှင့် ပတ်သက်၍အောက်ပါအတိုင်းလိုက်နာဆောင် ရွက်ရမည်။

(က) နိုင်ငံခြားငွေရရှိပုံနည်းလမ်း(Source of Payments for Imports) ဥပမာ - ပြည်ပတင်ပို့မှုမှ ဝင်ငွေ၊ ပြည်ပချေး ငွေ(Loan and Credits) ၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စနစ် (Buy-back System) စသည်တို့ကိုဖော်ပြရန်၊

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစားစာရင်း ( Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့ငယ်သို့တင်ပြ၍ ထောက်ခံချက်ရယူရန်၊

၄။ ယုဇနဟိုတယ်လီမိတက်ကို မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေနှင့်အညီ မှတ်ပုံတင်နိုင်ရန်အတွက် ကုမ္ပဏီများညွှန်ကြားမှုဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာနသို့ လျှောက်ထားရမည်။ ကုမ္ပဏီအား မှတ်ပုံတင်ပြီးသည့်အခါ အောက်ဖော်ပြပါ စာရွက်စာတမ်း (၅) စောင်စီကို ဤကော်မရှင်ရုံးသို့ ပေးပို့တင်ပြရမည်။

(က) ကုမ္ပဏီမှတ်ပုံတင်လက်မှတ် ( Certificate of Incorporation )

(ခ) ကုမ္ပဏီများညွှန်ကြားမှုဌာနက အတည်ပြု ပြီးဖြစ်သည့် မြန်မာ အင်္ဂလိပ် နှစ်ဘာသာဖြင့် ပြုစုထားသော ကုမ္ပဏီ၏ သင်းဖွဲ့စည်းမျဉ်း နှင့် သင်းဖွဲ့မှတ်တမ်းများ ( Memorandum and Articles of Association )

၅။ အဆိုပြု လုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက်၊ ကာကွယ်ရေး ဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင် ကာကွယ်ရေး ဝန်ကြီးရုံး မြေနှင့် အဆောက်အအုံကို ငှားရမ်းခြင်း၊ အဆောက်အအုံပြု ပြင်ခြင်း၊ ဟိုတယ်လုပ်ငန်းဆောင်ရွက်ခြင်းနှင့် လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ်ကို သဘောတူလက်မှတ်ရေးထိုးရမည်။ ထိုသို့လက်မှတ်ရေးထိုးပြီးသည့်အခါ ယင်းသဘောတူစာချုပ်မိတ္တူ (၅) စောင်ကို ဤကော်မရှင်သို့ တင်ပြရမည်။

၆။ ယုဇနဟိုတယ်လီမိတက်သည် ဟိုတယ်လုပ်ငန်းဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုစသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို စနစ်တကျ ထားရှိဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်းစတင်ဆောင်ရွက်သည့်နေ့ရက်ကို ဤကော်မရှင်သို့ အမြန်ဆုံးအစီရင်ခံရမည်။

အမိန့်အရ -

(ဗိုလ်မှူးချုပ်အေးဘယ်လ်)

အတွင်းရေးမှူး

[ဝန်ကြီး၊ အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန]

စာအမှတ်၊ ရက - ၁ / မ - ၀၁၅ / ၉၄ ( ၂၇၆၁ )

ရက်စွဲ၊ ၁၉၉၅ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၃ ရက်။

ဖြန့်ဝေခြင်း။

၁။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ရုံး။

၃။ အစိုးရအဖွဲ့ရုံး။

၄။ ကာကွယ်ရေးဝန်ကြီးဌာန။

၅။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန။

၆။ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန။

၇။ ကုန်သွယ်ရေးဝန်ကြီးဌာန။

၈။ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန။

၉။ ဥက္ကဋ္ဌ ၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်။

၁၀ ။ ဥက္ကဋ္ဌ ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့ငယ်။

၁၁။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန။

၁၂။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန။

၁၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း။

၁၄။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန။

၁၅။ ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့်ခရီးသွား ညွှန်ကြားမှုဦးစီးဌာန။

၁၆။ ဥက္ကဋ္ဌ ၊ ပြည်ထောင်စုမြန်မာနိုင်ငံ ကုန်သည်များနှင့် စက်မှုလက်မှုလုပ်ငန်းရှင်များအသင်း။

၁၇။ ညွှန်ကြားရေးမှူး၊ ကုမ္ပဏီများညွှန်ကြားမှုဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန။

၁၈။ ယုဇနဟိုတယ်လီမိတက်၊ အမှတ် ၁၅၊ ဓမ္မစေတီလမ်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့။

မှ/တစ်ဆင့်၊ စစ်ထောက်ချုပ်၊ စစ်ထောက်ချုပ်ရုံး၊ ကာကွယ်ရေးဝန်ကြီးဌာန။

အမိန့်အရ -

(ခိုင်ခိုင်)

တွဲဖက်အတွင်းရေးမှူး